


# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်



ခွင့်ပြုမိန့် အမှတ်၊ မနသ - ...၇၉၇............ / ၂၀၁၁ ။ ၂၀၁၁ ခုနှစ်၊ မတ် လ ၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ........ဦးတင်ဝင်း

(ခ) အဘအမည် ...........ဦးကြူဝင်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ..........၁၄/လပတ (နိုင်) ၀၈၇၇၈၅

(ဃ) နေရပ်လိပ်စာ .........အခန်း စီ – ၄၊ တိုက်အမှတ် (၁၈)၊ နဝဒေးလမ်း၊ ယောမင်းကြီး ရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ..........စွမ်းရည်ထက် ထုတ်လုပ်မှုကုမ္ပဏီ လီမိတက် (Tenacious Zealot Tenable Master Manufacturing Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ......တန် (၁၀၀) ဆံ့ အအေးခန်းနှင့် (၁၀) တန် ကျ ရေခဲစက်ရုံ တည်ဆောက်ပြီး ငါး / ပုစွန် ပြုပြင်အေးခဲထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ...ဦးပိုင်အမှတ်(C – ၂ + ၃)၊ ကွင်းအမှတ်(၅၇၄)၊ ကျောက်မှော်ရွာကွင်း၊ ၃ မိုင်မြို့သစ်၊ လှပွတ္တာမြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ..........၆၂၀,၀၀ (သန်း) (အမေရိကန်ဒေါ်လာ (၀.၁၂) သန်း အပါအဝင် စုစုပေါင်း ကျပ်ကိုးရာ့နှစ်ဆယ်သန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၂၈/၂၀၁၁ (မနသ)

ရန်ကုန်မြို့၊ ၁၃၇၂ ခုနှစ်၊ တပို့တွဲလပြည့်ကျော် ၁၄ ရက်

(၂၀၁၁ ခုနှစ်၊ မတ်လ ၄ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော စွမ်းရည်ထက် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Tenacious Zealot Tenable Master Manufacturing Co., Ltd.) သည် ကုမ္ပဏီ၏ ဒါရိုက်တာ ဖြစ်သူ ဦးတင်ဝင်း အမည်ဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာမြို့သစ် မြေယာချထားရေး ကော်မတီ မှ အသုံးပြုခွင့်ရရှိထားသော ဦးပိုင် အမှတ် (C-၂ + ၃)၊ ကွင်းအမှတ်(၅၇၉)၊ ကျောက်မှော်ရွာကွင်း၊ ၃ မိုင်မြို့သစ် ၊ လပွတ္တာမြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီးရှိ မြေ (၃.၇၆၄) ဧက (၁၅၂၃၂.၃၈ စတုရန်းမီတာ)တွင် တန်(၁၀၀)ဆံ့ အအေးခန်းနှင့် (၁၀)တန်ကျ ရေခဲစက်ရုံတည်ဆောက်ပြီး ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြု ပါရန် အဆိုပြု တင်ပြချက် အား (၂၁-၂-၂၀၁၁) နေ့တွင် ကျင်းပ သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃/၂၀၁၁) အစည်းအဝေးသို့ တင်ပြခဲ့ ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၂-၂-၂၀၁၁) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ ၏ (၄/၂၀၁၁) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီ ချက်အရ (၁၇-၂-၂၀၁၁) နေ့တွင် ကျင်းပ သော ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၇/၂၀၁၁) အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် စွမ်းရည်ထက် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Tenacious Zealot Tenable Master Manufacturing Co., Ltd.) အား တန်(၁၀၀)ဆံ့ အအေးခန်းနှင့် (၁၀)တန်ကျ ရေခဲစက်ရုံတည်ဆောက်ပြီး ငါး/ပုစွန် ပြုပြင် အေးခဲထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၇၉၇/ ၂၀၁၁ ကို ထုတ်ပေးလိုက်သည်။

၂။ စွမ်းရည်ထက် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Tenacious Zealot Tenable Master Manufacturing Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက် တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာ စာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု တွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်

အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြ လျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့် အမြတ်ငွေ ပေါ်တွင် (၅၀%) အထိ ကာလ အကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ပြည်ပမှတင်သွင်းသည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် ၁၃(ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည် -

(က) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ - ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ကိုယ်ပိုင်နိုင်ငံခြား ငွေ စသည်တို့ ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်းအထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်း အမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ (FCEC)သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ စွမ်းရည်ထက် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Tenacious Zealot Tenable Master Manufacturing Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုဝန်ဆောင်မှု နှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ စွမ်းရည်ထက် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Tenacious Zealot Tenable Master Manufacturing Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစု ထားရှိ ရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၇။ စွမ်းရည်ထက် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Tenacious Zealot Tenable Master Manufacturing Co., Ltd.) မှ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ အလုပ်သမားများသက်သာ ချောင်ချိရေး နှင့် လုပ်ငန်းခွင် သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၈။ စွမ်းရည်ထက် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Tenacious Zealot Tenable Master Manufacturing Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။ ပတ်ဝန်းကျင်တွင် အနံ့ဆိုးများ ဖြစ်ပေါ်စေပြီး ပတ်ဝန်းကျင် ညစ်ညမ်းမှု ဖြစ်ပေါ်၍ တိုင်ကြားလာပါက စက်ရုံပိတ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၉။ စွမ်းရည်ထက် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Tenacious Zealot Tenable Master Manufacturing Co., Ltd.) သည် ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေ အရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေး ရေး ဦးစီး ဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၀။ စွမ်းရည်ထက် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Tenacious Zealot Tenable Master Manufacturing Co., Ltd.) သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေ များကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လတစ်ကြိမ် (ဧပြီ / အောက်တိုဘာလများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံ ရမည်။ အဆိုပြုလုပ်ငန်း ၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ် ) တို့ ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၂။ စွမ်းရည်ထက် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Tenacious Zealot Tenable Master Manufacturing Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့် ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရ မည်။

၁၃။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံပိတ်သိမ်းနိုင် ရေးအတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့် အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူ ရမည်။

(မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၁၁၀၃/၂၀၁၁( ၃၃၆၉ )
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ မတ်လ ၄ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။
၃။ အစိုးရ အဖွဲ့ရုံး။
၄။ ဧရာဝတီတိုင်းဒေသကြီး အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး၊ ရန်ကုန်မြို့။
၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အဖွဲ့ဝင်များ။
၆။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၈။ အလုပ်သမား ဝန်ကြီးဌာန။
၉။ ပြည်ထဲရေး ဝန်ကြီးဌာန။

၁၀။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။

၁၁။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၂။ မွေးမြူရေး နှင့်ရေလုပ်ငန်း ဝန်ကြီးဌာန။

၁၃။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန။

၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့။ (ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်း ဦးစီးဌာန။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၅။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၂၆။ အုပ်ချုပ်မှု ဒါရိုက်တာ၊ စွမ်းရည်ထက် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Tenacious Zealot Tenable Master Manufacturing Co., Ltd.)

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/မ-၁၁၀၃/၂၀၁၁(၂၁၂၀-၈)၊

**စွမ်းရည်ထက် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Tenacious Zealot Tanable Master Manufacturing Co., Ltd.) မှ တန် (၁၀၀) ဆံ့ အအေးခန်းနှင့် တစ်နေ့လျှင် (၁၀)တန်ကျ ရေခဲစက်ရုံ တည်ဆောက်၍ ငါး/ပုစွန် ပြုပြင် အေးခဲ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါ ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။**

**အကျဉ်းချုပ်။** ။ မြန်မာ ကုမ္ပဏီဖြစ်သော စွမ်းရည်ထက် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Tenacious Zealot Tanable Master Manufacturing Co., Ltd.) သည် ကုမ္ပဏီ၏ ဒါရိုက်တာဖြစ်သူ ဦးတင်ဝင်း အမည်ဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာမြို့သစ် မြေယာချထားရေး ကော်မတီမှ အသုံးပြု ခွင့်ရရှိထားသော ဦးပိုင် အမှတ် (C-၂ + ၃)၊ ကွင်းအမှတ်(၅၇၉)၊ ကျောက်မော် ရွာကွင်း၊ ၃ မိုင်မြို့သစ် ၊ ဧရာဝတီတိုင်းဒေသကြီးရှိ မြေ (၃.၇၆၄) ဧက (၁၅၂၃၂.၃၈ စတုရန်းမီတာ) တွင် တန်(၁၀၀)ဆံ့ အအေးခန်းနှင့် (၁၀)တန်ကျ ရေခဲစက်ရုံတည်ဆောက်ပြီး ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးတင်ဝင်း(အဘ-ဦးကြူဝင်း)မှ အဆိုပြု တင်ပြလာပါသည်။

အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အား (၂-၂-၂၀၁၁) နေ့တွင် ကျင်းပ ပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၄/၂၀၁၁) အစည်းအဝေးသို့ တင်ပြခဲ့ရာ " လုပ်ငန်း ဆောင်ရွက် ခွင့်ပြုကြောင်း " ဆုံးဖြတ်ခဲ့ပါသည်။

ယင်းအဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အအေးခန်း နှင့် ရေခဲ စက်ရုံ လုပ်ငန်းများ တည်ဆောက်လုပ်ကိုင် ဆောင်ရွက်နေသည်မှာ မှန်ကန်ပါကြောင်း ဧရာဝတီတိုင်း ဒေသကြီး အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ ထောက်ခံချက် တင်ပြ ထားပါသည်။

မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာနမှ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိပါကြောင်း၊ ကုန်ကြမ်းနှင့် ကုန်ချောဈေးနှုန်းများ ဆီလျော်မှုရှိပါကြောင်း၊ ကုန်ချော ထုတ်လုပ်ရန် စက်များ ၏ Capacity အရ အနည်းဆုံးတစ်နေ့လျှင် ငါး/ ပုစွန် (၂)တန် ထုတ်လုပ် နိုင်ပါကြောင်း၊ ကုန်ချောထုတ်လုပ်မှုနှင့် စက်အင်အား၊ လူ အင်အား အချိုးအစား ညီမျှမှု ရှိပါကြောင်း၊ စက်ရုံတည်ဆောက်မည့် မြေနေရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် ရေဆိုး သန့်စင်သော စနစ်(Waste Water Treatment System ) ဆောင်ရွက်ရန် အဆင်ပြေ သဖြင့် အဆိုပါနေရာတွင် စက်ရုံဆောက်လုပ်ရန်သင့်လျော်ပါကြောင်း၊ မီးဘေးကြိုတင်ကာကွယ်ဆောင်ရွက် ထားမှု အစီအမံကို စိစစ်တွေ့ရှိရပါကြောင်း၊ အဆိုပါဒေသတွင် ကုန်ကြမ်း အလုံအလောက် ရရှိ နိုင်ပါကြောင်း၊ ဒေသဖွံ့ဖြိုးရေးနှင့် ဒေသခံပြည်သူများအလုပ်အကိုင် အခွင့်အလမ်းများ ရရှိနိုင် ပါကြောင်း၊ ရေလုပ်ငန်းဆိုင်ရာ ခေတ်မီနည်းပညာများ တိုးပွားစေမည်ဖြစ်ကြောင်း သဘောထား ပြန်ကြားထားပါသည်။

လုပ်ငန်းအတွက် လျှပ်စစ်ဓါတ်အား လိုအပ်ချက်နှင့် စပ်လျဉ်း၍ မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည့်အပြင် ကိုယ်ပိုင်ဂျင်နရေတာ ၃၀၀ ကေဗွီအေ နှင့် ၆၀ ကေဗွီအေ(၂)လုံး တပ်ဆင်အသုံးပြုမည် ဖြစ် ကြောင်း တင်ပြထားပါသည်။

လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၁၂)သန်း အပါအဝင်စုစုပေါင်း ကျပ် (၉၂၀.၀၀) သန်း ဖြစ်ပါသည်။ လုပ်ငန်း အတွက် လိုအပ်သော စက်ပစ္စည်း ကျပ်(၂၇၉.၂၈) သန်းဖိုး ကို ပြည်တွင်းရှိ Yantai Moon Co., Ltd. နှင့် EON Engineering & General Trading Co., Ltd. တို့မှ ဝယ်ယူပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။

လုပ်ငန်းအတွက် လိုအပ်သော ကုန်ကြမ်း ငါး/ပုစွန် များကို ဒေသတွင်းမှာပင် အလုံအလောက် ရရှိနိုင်ကြောင်း တင်ပြထားပါသည်။ ငါး/ပုစွန် များကို ပြုပြင်အေးခဲပြီး ပြည်ပသို့ (၁၀၀%) တင်ပို့ရောင်းချ ခြင်း ၊ ပြည်တွင်းလုပ်ငန်းရှင်များမှ လာရောက်အပ်နှံမည့် ငါး၊ ပုစွန် များကို အေးခဲ ပေးခြင်း၊ ထုတ်လုပ်သည့်ရေခဲများ၏ (၈၀%)ကို ပြည်တွင်းရေလုပ်ငန်းရှင်များသို့ ရောင်းချခြင်း တို့ကို ဆောင်ရွက်မည်ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု နှင့် ဝန်ဆောင်မှု မှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဉ် | အမျိုးအစား | ထုတ်လုပ်မှု / ဝန်ဆောင်မှု (မက်ထရစ်တန်) |
|---|---|---|
| | <u>ထုတ်လုပ်မှုလုပ်ငန်း</u> | |
| ၁။ | ပုစွန် | ၁၈၀ |
| ၂။ | ငါး | ၁၆၀ |
| ၃။ | ရေခဲ | ၂၆၄၀ |
| | <u>ဝန်ဆောင်မှုလုပ်ငန်း</u> | |
| ၁။ | ပြုပြင်အေးခဲခြင်း | ၁၀၀၀ |
| ၂။ | အေးခဲခြင်း | ၂၅၀၀၀ |

လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ပြည်ပတင်ပို့ရောင်းချရငွေ အပေါ် (၁၀%) ဖြတ်တောက်ရရှိငွေ US$ (၀.၂၂) သန်း ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၁၀၀)ဦး ခန့်ထားမည် ဖြစ်ပါသည်။ အလုပ်သမားများ သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် ဆောင်ရွက် ပေးမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထား ပါသည်။

ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် မြန်မာနိုင်ငံသားများ ဘဏ်ရှိ (၂၇-၁၀-၂၀၁၀) နေ့ ငွေလက်ကျန် ကျပ် (၇၀.၀၀) သန်း နှင့် နိုင်ငံခြားငွေ အထောက်အထား အဖြစ် MFTB ရှိ (၆-၁၀-၂၀၁၀)နေ့ ငွေလက်ကျန် US$ (၈၅၁၀၀) တင်ပြထားပါသည်။

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့်ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်။ ။ စွမ်းရည်ထက် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်(Tenacious Zealot Tanable Master Manufacturing Co., Ltd.) မှ တန် (၁၀၀) ဆံ့ အအေးခန်းနှင့် တစ်နေ့လျှင် (၁၀) တန် ကျ ရေခဲစက်ရုံ တည်ဆောက်၍ ငါး/ပုစွန် ပြုပြင် အေးခဲ ထုတ်လုပ်ခြင်းလုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ -မတူ။

အတွင်းရေးမှူး(ကိုယ်စား)
(သီတာမြင့်၊ ညွှန်ကြားရေးမှူး)



Tenecious .C.b.doc

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(ခ)/မ-၁၁၀၃/၂၀၁၁(၂၁၂၀-၈)
ရက်စွဲ ၊ ၂၀၁၁ ခုနှစ် ၊ ဖေဖော်ဝါရီလ ၂၀ ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်

အမှာစာ

အကြောင်းအရာ။ ။စွမ်းရည်ထက် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက် (Tenacious Zealot Tanable Master Manufacturing Co., Ltd.) မှ တန် (၁၀၀) ဆံ့ အအေးခန်းနှင့် တစ်နေ့လျှင် (၁၀)တန်ကျ ရေခဲစက်ရုံ တည်ဆောက်၍ ငါး/ပုစွန် ပြုပြင် အေးခဲ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါ ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော စွမ်းရည်ထက်ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်(Tenacious Zealot Tanable Master Manufacturing Co., Ltd.) သည် ကုမ္ပဏီ၏ ဒါရိုက်တာ ဖြစ်သူ ဦးတင်ဝင်း အမည်ဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ လပွတ္တာမြို့သစ် မြေယာချထားရေးကော်မတီမှ အသုံးပြု ခွင့် ရရှိထားသော ဦးပိုင် အမှတ် (C-၂ + ၃)၊ ကွင်းအမှတ်(၅၇၉)၊ ကျောက်မှော်ရွာကွင်း၊ ၃ မိုင်မြို့သစ် ၊ ဧရာဝတီတိုင်းဒေသကြီးရှိ မြေ (၃.၇၆၄) ဧက (၁၅၂၃၂.၃၈ စတုရန်းမီတာ)တွင် တန်(၁၀၀)ဆံ့ အအေးခန်းနှင့် (၁၀)တန်ကျ ရေခဲစက်ရုံတည်ဆောက်ပြီး ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးတင်ဝင်း(အဘ-ဦးကြူဝင်း)မှ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်အား (၂-၂-၂၀၁၁)နေ့တွင်ကျင်းပပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၄/၂၀၁၁) အစည်းအဝေးသို့ တင်ပြခဲ့ရာ " လုပ်ငန်း ဆောင်ရွက် ခွင့်ပြုကြောင်း " ဆုံးဖြတ်ခဲ့ပါသည်။ နောက်ဆက်တွဲ(က)

၃။ ယင်းအဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အအေးခန်း နှင့် ရေခဲ စက်ရုံ လုပ်ငန်းများ တည်ဆောက်လုပ်ကိုင် ဆောင်ရွက်နေသည်မှာ မှန်ကန်ပါကြောင်း ဧရာဝတီတိုင်း ဒေသကြီး အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ ထောက်ခံချက် တင်ပြ ထားပါသည်။

၄။ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာနမှ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစား ညီညွတ်မှုရှိပါကြောင်း၊ ကုန်ကြမ်းနှင့် ကုန်ချောဈေးနှုန်းများ ဆီလျော်မှုရှိပါကြောင်း၊ ကုန်ချော ထုတ်လုပ်ရန် စက်များ ၏ Capacity အရ အနည်းဆုံး တစ်နေ့လျှင် ငါး/ ပုစွန် (၂)တန် ထုတ်လုပ် နိုင်ပါကြောင်း၊ ကုန်ချောထုတ်လုပ်မှုနှင့် စက်အင်အား၊ လူ အင်အား အချိုးအစား ညီမျှ မှု ရှိပါ ကြောင်း၊ စက်ရုံတည်ဆောက်မည့် မြေနေရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိ စေရန် ရေဆိုး

သန့်စင်သော စနစ်(Waste Water Treatment System ) ဆောင်ရွက်ရန် အဆင်ပြေ သဖြင့် အဆိုပါနေရာတွင် စက်ရုံဆောက်လုပ်ရန်သင့်လျော်ပါကြောင်း၊မီးဘေးကြိုတင်ကာကွယ်ဆောင်ရွက်ထားမှု အစီအမံကို စိစစ်တွေ့ရှိရပါကြောင်း၊ အဆိုပါဒေသတွင် ကုန်ကြမ်း အလုံအလောက် ရရှိနိုင်ပါကြောင်း၊ ဒေသဖွံ့ဖြိုးရေးနှင့် ဒေသခံပြည်သူများအလုပ်အကိုင် အခွင့်အလမ်းများ ရရှိနိုင်ပါကြောင်း၊ ရေလုပ်ငန်းဆိုင်ရာ ခေတ်မီနည်းပညာများ တိုးပွားစေမည်ဖြစ်ကြောင်း သဘောထားပြန်ကြားထားပါသည်။ နောက်ဆက်တွဲ(ခ)

၅။ လုပ်ငန်းအတွက် လျှပ်စစ်ဓါတ်အား လိုအပ်ချက်နှင့် စပ်လျဉ်း၍ မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည့်အပြင် ကိုယ်ပိုင်ဂျင်နရေတာ ၃၀၀ ကေဗွီအေ နှင့် ၆၀ ကေဗွီအေ(၂)လုံး တပ်ဆင်အသုံးပြုမည် ဖြစ် ကြောင်း တင်ပြထားပါသည်။

၆။ လုပ်ငန်း အဆိုပြုချက်အား နောက်ဆက်တွဲ (ဂ) ဖြင့် တင်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (ဝ.၁၂)သန်း အပါအဝင် စုစုပေါင်း ကျပ်(၉၂၀.၀၀)သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ် သော စက်ပစ္စည်းများ ကျပ်(၂၇၉.၂၈)သန်းဖိုး ကို ပြည်တွင်းရှိ Yantai Moon Co., Ltd. နှင့် EON Engineering & General Trading Co., Ltd. တို့မှ ဝယ်ယူပြီး ဖြစ်ကြောင်း တင်ပြထားပါသည်။

၇။ လုပ်ငန်းအတွက် လိုအပ်သော ကုန်ကြမ်း ငါး/ပုစွန် များကို ဒေသတွင်းမှာပင် အလုံအလောက် ရရှိနိုင်ကြောင်း တင်ပြထားပါသည်။ ငါး/ပုစွန် များကို ပြုပြင်အေးခဲပြီး ပြည်ပသို့ (၁၀၀%) တင်ပို့ရောင်းချ ခြင်း ၊ ပြည်တွင်းလုပ်ငန်းရှင်များမှ လာရောက်အပ်နှံမည့် ငါး၊ ပုစွန် များကို အေးခဲ ပေးခြင်း၊ ထုတ်လုပ်သည့်ရေခဲများ၏ (၈၀%)ကို ပြည်တွင်းရေလုပ်ငန်းရှင်များသို့ ရောင်းချခြင်း တို့ကို ဆောင်ရွက်မည်ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု နှင့် ဝန်ဆောင်မှု မှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| စဥ် | အမျိုးအစား | ထုတ်လုပ်မှု / ဝန်ဆောင်မှု (မက်ထရစ်တန်) |
|---|---|---|
| | ထုတ်လုပ်မှုလုပ်ငန်း | |
| ၁။ | ပုစွန် | ၁၈၀ |
| ၂။ | ငါး | ၁၆၀ |
| ၃။ | ရေခဲ | ၂၆၄၀ |
| | ဝန်ဆောင်မှုလုပ်ငန်း | |
| ၁။ | ပြုပြင်အေးခဲခြင်း | ၁၀၀၀ |
| ၂။ | အေးခဲခြင်း | ၂၅၀၀၀ |

၈။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ ပြည်ပတင်ပို့ရောင်းချရငွေ အပေါ် (၁၀%) ဖြတ်တောက်ရရှိငွေ US$ (၀.၂၂) သန်း ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၁၀၀)ဦး ခန့်ထားမည် ဖြစ်ပါသည်။ အလုပ်သမားများ သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအတွက် ဆောင်ရွက်ပေးမည် ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထား ပါသည်။

၉။ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် မြန်မာနိုင်ငံသားများ ဘဏ်ရှိ (၂၇-၁၀-၂၀၁၀) နေ့ ငွေလက်ကျန် ကျပ် (၇၀.၀၀) သန်း နှင့် နိုင်ငံခြားငွေ အထောက် အထား အဖြစ် MFTB ရှိ (၆-၁၀-၂၀၁၀)နေ့ ငွေလက်ကျန် US$ (၈၅၁၀၀) တင်ပြထားပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြု ရပါမည်။

ဆုံးဖြတ်ရန်အချက်

၁၁။ စွမ်းရည်ထက် ထုတ်လုပ်မှု ကုမ္ပဏီ လီမိတက်(Tenacious Zealot Tanable Master Manufacturing Co., Ltd.) မှ တန် (၁၀၀) ဆံ့ အအေးခန်းနှင့် တစ်နေ့လျှင် (၁၀) တန် ကျ ရေခဲစက်ရုံ တည်ဆောက်၍ ငါး/ပုစွန် ပြုပြင် အေးခဲ ထုတ်လုပ်ခြင်းလုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ -မတူ။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

၁၂။ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(မောင်မောင်သိမ်း )
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး ၊ မွေးမြူရေးနှင့် ရေလုပ်ငန်းဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့



နောက်ဆက်တွဲ(က)

ပြည်ထောင်စုမြန်မာနိုင်ငံတော်

**ကုန်သွယ်မှုမူဝါဒကောင်စီ**

၂၀၁၁ ခုနှစ်၊ ဖေဖော်ဝါရီလ(၂)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၄/၂၀၁၁) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေးအစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၃-က | ၉၄၂ | စွမ်းရည်ထက်ထုတ်လုပ်မှုကုမ္ပဏီလီမိတက် (Tenacious Zealot Tanable Master Manufacturing Co., Ltd.) မှ တန် (၁၀၀) ဆံ့ အအေးခန်းနှင့် တစ်နေ့လျှင် (၁၀) တန်ကျ ရေခဲစက်ရုံ တည်ဆောက်၍ ငါး/ပုစွန် ပြုပြင်အေးခဲ ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ပါသည်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။ |



လျှို့ဝှက်

နောက်ဆက်တွဲ(ခ)



1-165
17/1

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
# မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ၁ / ၂၀၀(ည) / ၅၁၀၀ / ၁(၁၂၁၆ / ၂၀၁၁)၊
ရက်စွဲ ၊ ၂၀၁၁ ခုနှစ်၊ ဇန်နဝါရီလ(၁၆ )ရက်။

အကြောင်းအရာ။ ။ **စွမ်းရည်ထက်ထုတ်လုပ်မှုကုမ္ပဏီလီမိတက် ( Tenacious Zealot Tenable Master Manufacturing Co., Ltd.)မှ တန်(၁၀၀)ဆန့် အအေးခန်းစက်ရုံနှင့် တစ်နေ့(၁၀ )တန်ကျ ရေခဲစက်ရုံတည်ဆောက်ပြီး ငါး/ပုစွန်ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်း။**

ရည် ညွှန်း ချက် ။ ။ (၁) စွမ်းရည်ထက်ထုတ်လုပ်မှုကုမ္ပဏီလီမိတက် ၏ ( ၂-၁၁-၂၀၁၀ ) ရက်စွဲပါစာအမှတ်၊ TZTM / MIC / 2010 ( 2 ) ။

(၂) ငါးလုပ်ငန်းဦးစီးဌာန ၏ ( ၇-၁-၂၀၁၁ ) ရက်စွဲပါစာအမှတ်၊ ၁၃၃ (၂၀၁၀-၂၀၁၁ ) ထွေ / စက်ရုံ ( ၃၃၂ / ၃၃၄ ) ။

၁။ စွမ်းရည်ထက်ထုတ်လုပ်မှုကုမ္ပဏီလီမိတက် ( Tenacious Zealot Tenable Master Manufacturing Co., Ltd.) သည် ရေဝတီတိုင်းဒေသကြီး၊ လပွတ္တာခရိုင်၊ လပွတ္တာမြို့နယ်၊ သုံးမိုင်မြို့သစ်စက်မှုဇုန်၊ ကွင်းအမှတ်(၅၇၉)၊ ဦးပိုင်အမှတ်( စီ ၂ + ၃ )၊ ဧရိယာ(၃.၇၆၄)ဧကတွင် တန်(၁၀၀) သိုလှောင်နိုင်သော အရည်အသွေးမီ အအေးခန်းနှင့် တစ်နေ့(၁၀)တန်ကျ ရေခဲစက်ရုံတည်ဆောက်၍ ပြုပြင်အေးခဲပြီး ငါး/ပုစွန်များကို ပြည်ပသို့ ၁၀၀ % တင်ပို့ရောင်းချခြင်း၊ ပြည်တွင်းလုပ်ငန်းရှင်များမှ အပ်နှံသည့် ငါး/ပုစွန်များကို လခစားစနစ်ဖြင့် အေးခဲပေးပြီး၊ ထုတ်လုပ်သည့် ရေခဲများ၏ ၈၀ % ကို ပြည်တွင်းရေလုပ်ငန်းရှင်များသို့ ရောင်းချခြင်းလုပ်ငန်းလုပ်ကိုင်နိုင်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြမည့် အဆိုပြုလွှာကို မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနသို့ ရည်ညွှန်းချက်(၁)ပါစာဖြင့် တင်ပြလာပါသည်။

၂။ စွမ်းရည်ထက်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ အဆိုပြုတင်ပြသည့် လုပ်ငန်းနှင့်စပ်လျဉ်း၍ စိစစ်တွေ့ရှိချက်အား အောက်ပါအတိုင်း တင်ပြအပ်ပါသည် -

(က) အဆိုပြုချက်တွင် ဖော်ပြထားသော ကုန်ကြမ်းရရှိနိုင်မှု အခြေအနေမှာ ရေချိုရေငန်ပုစွန် ကုန်ကြမ်းတစ်နှစ်ပျမ်းမျှ(၃၀၀)တန်၊ ရေချိုရေငန်ငါး ကုန်ကြမ်း တစ်နှစ်ပျမ်းမျှ (၂၀၀)တန် ခန့်ရရှိနိုင်မည်ဖြစ်ပါသည်။ ကုန်ချော ထုတ်လုပ်နိုင်မှုအပိုင်းတွင် ရေချိုရေငန်ပုစွန် တစ်နှစ်ပျမ်းမျှ (၁၈၀)တန်ထုတ်လုပ်နိုင်မည်ဟု ဖော်ပြထားသဖြင့် တစ်ရက် ပုစွန်ကုန်ချော (၀.၆၅) တန် ထုတ်လုပ်နိုင်ပါကြောင်း၊ ရေချိုရေငန်ငါး တစ်နှစ်ပျမ်းမျှ (၁၆၀)တန် ထွက်ရှိမည်ဖြစ်ပြီး တစ်ရက် ငါးကုန်ချော (၀.၅၇)တန် ထုတ်လုပ်နိုင်ပါကြောင်း၊ အဆိုပြုတင်ပြသည့် ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအစားညီညွတ်မှုရှိသည်ကို တွေ့ရှိရပါသည်၊

(ခ) ကုန်ကြမ်းဈေးနှုန်းမှာ အဆိုပြုချက်တွင် ရေချို/ရေငန်ပုစွန် တစ်တန်လျှင် ကျပ်(၅၁)သိန်းဖြစ်၍ တစ်ပိဿာလျှင်(၈၃၀၀)ကျပ်ခန့် ဈေးနှုန်းရှိပြီး၊ ရေချို/ရေငန်ငါး တစ်တန်လျှင် ကျပ်(၂၁)သိန်းဖြစ်၍ တစ်ပိဿာလျှင် (၃၄၀၀)ကျပ်ဖြင့် ဖော်ပြထားပါကြောင်း၊ ဒေသတွင်း စိစစ်လေ့လာချက်အရ ရေချို/ရေငန်ပုစွန်ပျမ်းမျှ တစ်ပိဿာလျှင် (၈၀၀၀) ကျပ်ခန့်၊ ရေချို/ရေငန် ငါးတစ်ပိဿာလျှင် (၃၅၀၀)ကျပ်ခန့်ရှိပါကြောင်း၊ ကုန်ချောဈေးနှုန်းမှာ အဆိုပြုချက်တွင် ပြည်ပရောင်းဈေး ရေချို/ရေငန်ပုစွန်တစ်တန်လျှင် US$ (၉၂၀၀)ခန့် နှင့် ငါးတစ်တန်လျှင် US$(၃၁၅၀)ခန့် ဖော်ပြထားပါကြောင်း၊ ပြည်ပပို့ကုန် ဈေးနှုန်းလေ့လာချက်အရ ရေချို/ ရေငန်ပုစွန် တစ်တန်လျှင်ပျမ်းမျှ US$ (၈၀၀၀)ခန့် နှင့် ရေချို/ရေငန် ငါးတစ်တန်လျှင် US$ (၃၀၀၀)ခန့်ရှိသဖြင့် အဆိုပြုချက်တွင် ဖော်ပြထားသော ကုန်ကြမ်းနှင့်ကုန်ချော ဈေးနှုန်းများမှာ ဆီလျော်မှုရှိကြောင်း စိစစ်တင်ပြအပ်ပါသည်၊

(ဂ) စက်ရုံတွင်တပ်ဆင်မည့် ကုန်ချောထုတ်လုပ်ရန် စက်များ၏ Capacity မှာ ငါး/ပုစွန်ပြုပြင်ထုတ်လုပ်ရန်အတွက် Contact Freezer(0.5 MT / 90 min) 2 Nos. တပ်ဆင်မည်ဖြစ်ကြောင်း၊ အဆိုပါစက်များ၏ Capacity အရ အနည်းဆုံးတစ်နေ့ ငါး/ပုစွန် (၂)တန် ထုတ်လုပ်နိုင်ပါကြောင်း စိစစ်တင်ပြအပ်ပါသည်၊

(ဃ) အဆိုပါစက်များကို ကိုင်တွယ်မောင်းနှင်ရန်အတွက် အင်ဂျင်နီယာ ( ၅ ) ဦး၊ ကုန်ကြမ်း၊ ကုန်ချော ပစ္စည်းများ ကိုင်တွယ်ဆောင်ရွက်နိုင်ရန်အတွက် ကာယဉာဏလုပ်သား စုစုပေါင်း ( ၁၀၀ )ဦး ခန့်ထားဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ကုန်ချောထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစားညီမျှမှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ အထက်အပိုဒ်(၂)ပါစိစစ်ချက်အပြင် လုပ်ငန်းနှင့်စပ်လျဉ်းသည့် ကျွမ်းကျင်မှု နည်းပညာများကို အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည် -

(က) အဆိုပြုတင်ပြသည့် စက်ရုံတည်ဆောက်မည့် မြေနေရာမှာ ရွှေးမြစ်ကမ်းနံဘေးရှိ လယ်ကွင်းဟု အအေးခန်းစက်မှုဇုန် မြေနေရာဖြစ်ပြီး ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် အနံ့ဆိုးများ သန့်စင်သောစနစ်/ရေဆိုးသန့်စင်သောစနစ် (Waste Water Treatment System) ဆောင်ရွက်ရန် အဆင်ပြေသဖြင့် စက်ရုံဆောက်လုပ်ရန် သင့်လျော်မှုရှိပြီး မီးသောကြို့တင် ကာကွယ်ဆောင်ရွက်ထားရှိမည့် အစီအမံကို စိစစ်တွေ့ရှိရပါသည်။

(ခ) ယခုစက်ရုံကို EU Standard အညီ တည်ဆောက်မည်ဖြစ်ပြီး၊ မြေ အကျယ်(၃.၇၆၄)ဧကမှာ စက်ရုံဆောက်လုပ်ရန်သင့်လျော်မှုရှိပါသည်၊ ထုတ်လုပ်မည့်ကုန်ချောပမာဏနှင့်ကိုက်ညီအောင် အဆိုပါဒေသတွင် ကုန်ကြမ်းအလုံအလောက်ရရှိနိုင်ပါကြောင်း စိစစ်တင်ပြအပ်ပါသည်၊

(ဂ) စွမ်းရည်ထက်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်(Tenacious Zealot Tenable Master Manufacturing Co., Ltd.) မှ အအေးခန်းနှင့်ရေခဲစက်ရုံတည်ဆောက်ပြီး၊ ငါး/ပုစွန်ပြုပြင် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဒေသဖွံ့ဖြိုးရေးနှင့် ဒေသခံပြည်သူများ အလုပ်အကိုင်အခွင့်အလမ်းများ ရရှိမည်ဖြစ်ခြင်း၊ ရေလုပ်ငန်းဆိုင်ရာခေတ်မီနည်းပညာများ တိုးပွားရရှိစေမည်ဖြစ်ပါကြောင်း တင်ပြ အပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ စွမ်းရည်ထက်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ တန်(၁၀၀)သိုလှောင်နိုင်သော အအေးခန်း စက်ရုံ နှင့် တစ်နေ့ (၁၀)တန်ကျ ရေခဲစက်ရုံတည်ဆောက်ပြီး၊ ငါး/ပုစွန် ပြုပြင် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာနှင့်အတူ ပူးတွဲတင်ပြအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)

( အောင်မင်း၊ ရုံးအဖွဲ့မှူး )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူ -

(၁) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန။

(၂) အုပ်ချုပ်မှုဒါရိုက်တာ၊ စွမ်းရည်ထက်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်။

**နောက်ဆက်တွဲ - (  )**

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
# ရင်းနှီးမြှုပ်နှံလိုသူ၏
# အဆိုပြုချက်

## ရေထွက်ပစ္စည်းပြုပြင်အေးခဲသည့်အအေးခန်းနှင့်
## ရေခဲစက်ရုံလုပ်ငန်း

## COLD STORAGE & FLAKE ICE
## MAKING PLANT

စွမ်းရည်ထက်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်
TENACIOUS ZEALOT TENABLE MASTER
MANUFACTURING CO., LTD.



# Tenacious Zealot Tenable Master
## Manufacturing Co., Ltd.

Building (5), Room No.(001), Mingalar Sinmin Housing, Strand Road, Ahlone Township, Yangon, Myanmar.
Tel : (95-1) 214287, 217101 Fax : (95-1) 212358 E-mail : tztm-company@myanmar.com.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

စာအမှတ်၊ TZTM/MIC/2011(1)
ရက်စွဲ၊ ၂၀၁၁ခုနှစ်၊ဇန်နဝါရီလ ၂၅ ရက်

အကြောင်းအရာ။ **အအေးခန်းနှင့် ရေခဲစက်ရုံတည်ထောင်ဆောင်ရွက်နိုင်ရန်အတွက် အဆိုပြုလွှာများ ပေးပို့ခြင်း**

၁။ ကျွန်တော်များ စွမ်းရည်ထက်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်သည် အရည်အသွေးမီအအေးခန်းနှင့် ရေခဲစက်ရုံတည်ထောင်၍ပြုပြင်အေးခဲပြီးငါး/ပုစွန်များကိုပြည်ပသို့တင်ပို့ရောင်းချသည့်လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်နိုင်ရန်အတွက်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ရရှိရန် အဆိုပြုလွှာများပေးပို့တင်ပြလျှောက်ထားခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍စွမ်းရည်ထက်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်မှ တင်ပြခဲ့ခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏သဘောတူညီချက်ဖြင့်ကုန်သွယ်မှုမူဝါဒကောင်စီအစည်းအဝေးသို့ဆက်လက်တင်ပြနိုင်ရန် အတွက် အဆိုပြုလွှာ(၂၇)စုံအား Adobe Acrobat Reader (pdf) File ဖြင့် ထည့်သွင်းထားသော CD Copy နှင့် အတူပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးတင်ဝင်း
ဒါရိုက်တာ




**Tenacious Zealot Tenable Master**
**Manufacturing Co., Ltd.**

Building (5), Room No.(001), Mingalar Sinmin Housing, Strand Road, Ahlone Township, Yangon, Myanmar.
Tel : (95-1) 214287, 217101 Fax : (95-1) 212358 E-mail : tztm-company@myanmar.com.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

စာအမှတ်၊ TZTM / MIC / 2010 (1)
ရက်စွဲ၊ ၂၀၁၀ခုနှစ်၊နိုဝင်ဘာလ ၁ ရက်

အကြောင်းအရာ ။အအေးခန်းနှင့် ရေခဲစက်ရုံတည်ထောင်ဆောင်ရွက်နိုင်ရန်အတွက် အဆိုပြုလွှာများပေးပို့ခြင်း။

အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏စွမ်းရည်ထက်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင်အရည်အသွေးမီအအေးခန်းနှင့်ရေခဲစက်ရုံတည်ဆောက်၍ပြုပြင်အေးခဲပြီးငါး/ပုစွန်များကို ပြည်ပသို့တင်ပို့ရောင်းချသည့် လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားအပ်ပါသည်။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ကျွန်တော်တို့ ကုမ္ပဏီ၏အဆိုပြုလွှာများကိုပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးတင်ဝင်း
ဒါရိုက်တာ




**Tenacious Zealot Tenable Master**
**Manufacturing Co., Ltd.**

Building (5), Room No.(001), Mingalar Sinmin Housing, Strand Road, Ahlone Township, Yangon, Myanmar.
Tel : (95-1) 214287, 217101 Fax : (95-1) 212358 E-mail : tztm-company@myanmar.com.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊ နေပြည်တော်

စာအမှတ် ၊ TZTM/MIC/2010(1)
ရက်စွဲ၊ ၂၀၁၀ခုနှစ်၊နိုဝင်ဘာလ ၁ ရက်

အကြောင်းအရာ ။ **မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ ကျွန်တော်တို့၏ စွမ်းရည်ထက်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်သည် ဧရာဝတီတိုင်းဒေသကြီး၊လပွတ္တာခရိုင်၊ လပွတ္တာမြို့နယ်သုံးမိုင်မြို့သစ်စက်မှုဇုန်၊ ကွင်းအမှတ်(၅၇၉)၊ဦးပိုင်အမှတ်(စီ၂+၃) ဧရိယာ (၃.၇၆၄) ဧကတွင် တန်(၁၀၀)ဆန့် အရည်အသွေးမီ အအေးခန်း နှင့် တစ်နေ့(၁၀)တန်ကျ ရေခဲစက်ရုံတည်ဆောက်၍ ပြုပြင်အေးခဲပြီးငါး/ပုစွန်များကို ပြည်ပသို့၁၀၀% တင်ပို့ရောင်းချခြင်း၊ ပြည်တွင်း လုပ်ငန်းရှင်များက လာရောက်အပ်နှံသည့်ငါး/ပုစွန်များကို လက်ခစား စနစ်ဖြင့် အေးခဲပေးခြင်း၊ထုတ်လုပ်သည့်ရေခဲများ၏ ၈၀% ကိုပြည်တွင်းရေလုပ်ငန်းရှင်များသို့ ရောင်းချခြင်း လုပ်ငန်းများလုပ်ကိုင်နိုင်ရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားအပ်ပါသည်။

၂။ အအေးခန်းစက်ရုံနှင့်ရေခဲစက်တို့အတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ ကျပ် (၉၂၀ )သန်းဖြစ်ပါသည်။ စက်ရုံအတွက်လိုအပ်သော စက်ကိရိယာပစ္စည်းတန်ဖိုးကျပ် (၂၇၉.၂၈)သန်း ကိုပြည်တွင်းမှ ဝယ်ယူတပ်ဆင်မည်ပြီး အမေရိကန်ဒေါ်လာ(.၁၂)သန်းတန်ဖိုးရှိ လုပ်ငန်းသုံးအအေးခန်းကား(၄)စီးကိုပြည်ပမှဝယ်ယူမည်ဖြစ်ပါသည်။စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ်(၉၂၀)သန်း တွင်ငွေသားကျပ်၊မြေ၊အဆောက်အဦး၊စက်ပစ္စည်း နှင့် ပရိဘောဂများပါဝင်ပါသည်။ ထုတ်လုပ်ဖြန့်ဖြူးရောင်းချ၍ရရှိလာသည့် အမြတ်ငွေများကိုလည်းအခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံရန်ရည်ရွယ်ပါသည်။ ထုတ်လုပ်ရရှိသော ပြုပြင်အေးခဲပြီးငါး/ပုစွန်များကို စင်ကာပူ၊ဗီယက်နမ်၊ မလေးရှားနှင့်တရုတ်ပြည်သူ့သမ္မတနိုင်ငံများသို့ တင်ပို့မည်

ဖြစ်ရာ ဈေးကွက်အသင့်ရှိပြီးဖြစ်ပါသည်။စက်ရုံအတွက်လိုအပ်သော ငါး/ပုဇွန်ကုန်ကြမ်းများကိုဒေသတွင်းမှာ ပင်အလုံအလောက် ဝယ်ယူရရှိနိုင်ပါသည်။

၃။ ၂၀၀၈ခုနှစ် မုန်တိုင်းသင့်ဒေသဖြစ်သည့် လပွတ္တာမြို့နယ်တွင် ပြန်လည်ထူထောင်ရေးလုပ်ငန်းများကို နိုင်ငံတော်အစိုးရနှင့်လက်တွဲဆောင်ရွက်ရာ၌ဒေသတွင်းလူမှုစီးပွားဖွံ့ဖြိုးတိုးတက်ရေးကိုအထောက်အကူဖြစ်စေ ရန်ရည်ရွယ်၍ စက်ရုံတည်ဆောက်ခြင်းဖြစ်ပါသည်။ ထို့အပြင် ကျွန်တော်များကုမ္ပဏီအနေဖြင့် Black tiger အမျိုးအစား ပုဇွန်နှင့်ဂဏန်းပျော့မွေးမြူရေးလုပ်ငန်းလုပ်ကိုင်နိုင်ရန်အတွက် စက်ရုံပတ်ဝန်းကျင်ဒေသအတွင်း မြေဧက(၁၀၀၀)ခန့်ရှာဖွေနေဆဲဖြစ်ပါသည်။ ဤသို့ဆောင်ရွက်ခြင်းဖြင့် ဒေသခံပြည်သူများ အလုပ်အကိုင် အခွင့် အလမ်းများပိုမိုရရှိကာ ပုံမှန်ဝင်ငွေရရှိပြီး လူနေမှုအဆင့်အတန်းတိုးတက်လာမည်ဖြစ်ပါ သည်။

၄။ သို့ဖြစ်ပါ၍နိုင်ငံတော်အတွက်ရသင့်ရထိုက်သည့်အခွန်ငွေများရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာ နိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလန်းများ ရရှိစေရန်အတွက်လည်းကောင်း၊ စက်မှုနည်းပညာရပ် များတိုးတက်လာစေရန်အတွက်လည်းကောင်း ကျွန်တော်တို့ စွမ်းရည်ထက်ထုတ်လုပ်မှုကုမ္ပဏီ လီမိတက်၏ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်လျှောက်ထားခြင်းကိုလက်ခံစဉ်းစားပေးပါရန်နှင့်မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုလည်း ပေးပါရန်လျှောက်ထားအပ်ပါသည်။

၅။ ဤလျှောက်လွှာနှင့်အတူအောက်ပါအထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမက ထပြုသူ၏လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်၊

(ခ) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေးအထောက်အထားများ၊

(ဂ) ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ၊

(ဃ) ဘဏ္ဍာရေးအချက်အလက်နှင့်ပတ်သက်သည့်တွက်ချက်မှုဇယားများ။

လေးစားစွာဖြင့်

(signature)

ဦးတင်ဝင်း

ဒါရိုက်တာ



**Tenacious Zealot Tenable Master**
**Manufacturing Co., Ltd.**

Building (5), Room No.(001), Mingalar Sinmin Housing, Strand Road, Ahlone Township, Yangon, Myanmar.
Tel : (95-1) 214287, 217101 Fax : (95-1) 212358 E-mail : tztm-company@myanmar.com.mm

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

စာအမှတ်၊ TZTM / MIC / 2010 (1)
ရက်စွဲ၊ ၂၀၁၀ခုနှစ်၊နိုဝင်ဘာလ ၁ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ကတိဝန်ခံချက်ပေးပို့ခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်တော်တို့၏စွမ်းရည်ထက်ထုတ်လုပ်မှုကုမ္ပဏီလီမိတက်သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် တန်(၁၀၀)ဆန့် အရည်အသွေးမီအအေးခန်းနှင့် တစ်နေ့(၁၀)တန်ကျ ရေခဲစက်ရုံတည်ဆောက်၍ လုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီခွင့်ပြုမိန့်ကိုလျှောက်ထားအပ်ပါသည်။ ထိုသို့လျှောက်ထားရာတွင် အောက်ပါတို့ကိုဝန်ခံကတိပြုပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ နိုင်ငံခြားသားမည်သူမှပိုင်ဆိုင်မှုမရှိကြောင်းဝန်ခံကတိပြုပါသည်။

(ခ) လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်စေရန်အတွက် လိုအပ်သောအစီအမံများဆောင်ရွက်ထားမည့်အပြင် **(waste water treatment plant)** ကိုတည်ဆောက်အသုံးပြုမည်ဖြစ်ကြောင်းနှင့် မီးဘေးကြိုတင်ကာကွယ်မှုများပြုလုပ်ထား မည်ဖြစ်ပါကြောင်းဝန်ခံကတိပြုပါသည်။

(ဂ) ယခုအဆိုပြုတင်ပြသည့်လုပ်ငန်းသည်တစ်ကြိမ်တစ်ခါမျှလုပ်ကိုင်ခဲ့ဘူးခြင်းမရှိသည့်လုပ်ငန်းသစ်ဖြစ်ပြီး စက်ရုံမှထွက်ရှိလာသည့် အေးခဲပြီးငါး/ပုစွန်များအတွက် ပြည်ပဈေးကွက်ရှိပါပါကြောင်းနှင့် အဆိုပြုချက်တွင်ဖော်ပြထားသော ပို့ကုန်ဈေးနှုန်းများမှာလျှော်ကန်သင့်မြတ်သောဈေးနှုန်းများဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(ဃ) နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ပြဋ္ဌာန်းသတ်မှတ်ထားသည့် စည်းကမ်းဥပဒေများကိုလည်းလိုက်နာမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(င) ပြည်တွင်းမှဝယ်ယူမည့် လုပ်ငန်းသုံးစက်ပစ္စည်းကိရိယာများကိုလည်း အသစ်စက်စက်များကိုသာဝယ်ယူမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(စ) ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီးစက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနတွင်မှတ်ပုံတင်ထားရှိမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(ဆ) ဤလုပ်ငန်းဖြင့်ပို့ကုန်မှရရှိသည့်ဝင်ငွေများကို MICB (သို့) MFTB ရှိကုမ္ပဏီ၏နိုင်ငံခြားငွေစာရင်းသို့မပျက်မကွက်ပေးသွင်းမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

(ဇ) ဤလုပ်ငန်းအတွက် ကုန်ပစ္စည်းများတင်ပို့ရာတွင် ရေကြောင်း/လေကြောင်း ခရီးများဖြင့်သာဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးတင်ဝင်း
ဒါရိုက်တာ




တိုင်းဒေသကြီးအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ
ဧရာဝတီတိုင်းဒေသကြီး - ပုသိမ်မြို့
စာအမှတ်၊ ၅ / ၆ - ၉ / ဦး ၆
ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ်၊ အောက်တိုဘာလ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **ထောက်ခံချက်ပေးပို့ခြင်း**

ရည် ညွှန်း ချက်။ Tenacious Zealot Tenable Master Manufacturing Co: Ltd., ၏ ၂၆-၁၀-၂၀၁၀ ရက်နေ့တင်ပြစာ

၁။ ဧရာဝတီတိုင်း၊လပွတ္တာခရိုင်၊လပွတ္တာမြို့တွင်နာဂစ်ပြီးကာလဒေသဖွံ့ဖြိုးရေးအတွက် နိုင်ငံတော်အကြီးအကဲ လမ်းညွှန်ချက်ဖြင့် ဒေသရေထွက်ကုန်လုပ်ငန်းများအတွက် အအေးခန်းစက်ရုံကို Tenacious Zealot Tenable Master Manufacturing Co: Ltd., မှလပွတ္တာမြို့၊ အအေးခန်းစက်ရုံနယ်မြေအကွက်အမှတ်(C2 ,C3) တွင် မြေနေရာရရှိထားပြီး ဖြစ်ပါသည်။

၂။ အဆိုပါကုမ္ပဏီသည် လပွတ္တာမြို့တွင် အအေးခန်းနှင့်ရေခဲစက်ရုံ လုပ်ငန်းများကိုစတင်တည်ဆောက် လုပ်ကိုင် ဆောင်ရွက်နေသည်မှာ မှန်ကန်ပါကြောင်း ထောက်ခံအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
( အေးကျော်၊အတွင်းရေးမှူး )

မိတ္တူကို

လှည့်လည်စာတွဲ
ရုံးလက်ခံ



# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ(မနသ–၁)

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်
[ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ(ဂ)နှင့် ပုဒ်မ ဂ]

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

စာအမှတ်၊ TZTM/MIC/2010 (1)
ရက်စွဲ၊ ၂၀၁၀ခုနှစ်၊နိုဝင်ဘာလ ၁ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကို ဖော်ပြ၍လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏–

| | | | |
|---|---|---|---|
| (က) | အမည် | – | ဦးတင်ဝင်း |
| (ခ) | အဖအမည် | – | ဦးကြူဝင်း |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | – | ၁၄/လပတ(နိုင်)၀၈၇၇၈၅ |
| (ဃ) | နေရပ်လိပ်စာ | – | အခန်း–စီ၄၊တိုက်အမှတ်(၁၈)၊နဝဒေးလမ်း ယောမင်းကြီးရပ်ကွက်၊ဒဂုံမြို့နယ်၊ရန်ကုန်မြို့ |
| (င) | လူမျိုး၊ဘာသာ | – | တရုတ်/ဗမာ |
| (စ) | အဖွဲ့အစည်းအမည် | – | စွမ်းရည်ထက်ထုတ်လုပ်မှုကုမ္ပဏီလီမိတက် **Tenacious Zealot Tenable Master Manufacturing Co. Ltd.** |
| (ဆ) | လုပ်ငန်းအမျိုးအစား | – | ရေထွက်ပစ္စည်းပြုပြင်အေးခဲခြင်းနှင့်ရေခဲစက်ရုံ လုပ်ငန်း |
| (ဇ) | အဖွဲ့အစည်းတည်နေရာအရပ် | – | အမှတ်(၀၀၁)၊တိုက်အမှတ်(၅)၊မင်္ဂလာဆင်မင်း အိမ်ရာ၊ကမ်းနားလမ်း၊အလုံမြို့နယ်၊ရန်ကုန်မြို့ |

၂။ ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံလိုပါကဖက်စပ်ပြုလုပ်မည့်သူ၏–

(က) အမည်

(ခ) အဖအမည်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် –

(ဃ) နေရပ်လိပ်စာ –

(င) လူမျိုး၊ဘာသာ –

(စ) အဖွဲ့အစည်းအမည် –

(ဆ) လုပ်ငန်းအမျိုးအစား –

(ဇ) အဖွဲ့အစည်းတည်နေရာအရပ် –

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်လုပ်ငန်းအမျိုးအစား–

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း – ရေထွက်ပစ္စည်းပြုပြင်အေးခဲသည့်အအေးခန်းနှင့်ရေခဲစက်ရုံလုပ်ငန်း

(ခ) ဝန်ဆောင်မှုလုပ်ငန်း –

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ

(က) နိုင်ငံသားနှင့်နိုင်ငံသားတို့ကအစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း – လီမိတက်ကုမ္ပဏီ (နောက်ဆက်တွဲဇယား–၁)

(ခ) ဝန်ဆောင်မှုလုပ်ငန်း –

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့်(သို့မဟုတ်)ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်

(က) တစ်ဦးတည်းပိုင် –

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း –

(ဂ) လီမိတက်ကုမ္ပဏီ – စွမ်းရည်ထက်ထုတ်လုပ်မှုကုမ္ပဏီလီမိတက် **Tenacious Zealot Tenable Master Manufacturing Co. Ltd.**

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက

(က) အစုစပ်ထည့်ဝင်မည့်အစုငွေအမျိုးအစားနှင့်ပမာဏ –

(ခ) အကျိုးအမြတ်ခွဲဝေမည့်အချိုးအစား –

(ဂ) အစုစပ်ဝင်များ၏ထာဝန်နှင့်လုပ်ပိုင်ခွင့်များ–

၇။ သမဝါယမအသင်း/ လီမိတက်ကုမ္ပဏီဖြစ်ပါက

(က) ခွင့်ပြုမတည်ငွေရင်း – ကျပ် ၃၀၀၀၀၀၀၀၀၀(ကျပ်သန်းသုံးထောင်)

(ခ) အစုရှယ်ယာအမျိုးအစား – တစ်စုလျှင်ကျပ်၁၀၀၀၀(ကျပ်တစ်သောင်းတန်) သာမန်အစုရှယ်ယာ(၃၀၀၀၀၀)

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ – တစ်စုလျှင်ကျပ်၁၀၀၀၀တန်အစုရှယ်ယာ (၉၂၀၀၀)

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်အဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) မတည်ငွေရင်းပမာဏ(ထောင်ပေါင်း)

| | | | ကျပ်ငွေ | နိုင်ငံခြားငွေ (US$) | စုစုပေါင်း |
|---|---|---|---|---|---|
| (၁) | ငွေပမာဏ | – | ၃၀၀၀၀ | | ၃၀၀၀၀ |
| (၂) | အဆောက်အဦး (နောက်ဆက်တွဲဇယား–၂) | – | ၅၆၈၀၀၀ | | ၅၆၈၀၀၀ |
| (၃) | မြေ | | ၃၂၀၀၀ | | ၃၂၀၀၀ |
| (၄) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း – (နောက်ဆက်တွဲဇယား–၃က) | | ၁၀၀၀၀ | | ၁၀၀၀၀ |
| (၅) | စက် ပစ္စည်းကရိယာ (နောက်ဆက်တွဲဇယား–၃ခ နှင့် ၃ဂ) | – | ၂၇၉၂၈၀ | ၁၂၀ | ၂၈၀၀၀၀ |
| (၆) | ကုန်ကြမ်း ပစ္စည်းများ | – | | | |
| | **စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ** | – | **၉၁၉၂၈၀** | **၁၂၀** | **၉၂၀၀၀၀** |

(ခ) နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့်

| | | | (US$000) | ညီမျှသည့်ကျပ်(၀၀၀) |
|---|---|---|---|---|
| (၁) | စက်ပစ္စည်းကရိယာများ၏တန်ဖိုး – | | ၁၂၀ | ၇၂၀ |
| (၂) | ကုန်ကြမ်းပစ္စည်းများနှင့်အခြား အလားတူပစ္စည်းများ၏တန်ဖိုး | – | | |
| (၃) | ငွေသားဖြင့်ချေးငွေပမာဏ | – | | |

(ဂ) တည်ဆောက်မှုကာလ – (၆)လ

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုမည့်ကာလ –

(င) တည်ဆောက်မှုစတင်မည့်အချိန် – မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုမိန့်ရသည့်နေ့မှစတင်ဆောင်ရွက်ပါမည်။

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့်ဆိုင်သောအချက်အလက်များ

(က) လုပ်ငန်းအမျိုးအစား – ရေထွက်ပစ္စည်းပြုပြင်အေးခဲသည့်အအေးခန်းနှင့်ရေခဲစက်ရုံလုပ်ငန်း

(ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှုစသည်ဖြင့်ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ – လပွတ္တာမြို့နယ်၊သုံးမိုင်မြို့သစ်စက်မှုဇုန်၊ ကွင်းအမှတ်(၅၇၉)၊ဦးပိုင်အမှတ်(စီ၂+၃)

(ဂ) ဆောင်ရွက်ပုံစနစ် – (၁) ရေထွက်ပစ္စည်းများကိုပြည်တွင်းမှဝယ်ယူ၍ ပြုပြင်အေးခဲပြီးပြည်ပသို့တင်ပို့ခြင်း

(၂) ရေထွက်ပစ္စည်းပြုပြင်အေးခဲခြင်းဝန်ဆောင်မှုလုပ်ငန်း

(၃) ရေခဲထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်

(၁) ဒီဇယ်ဆီ – ဂါလံ(၁၅၀၀၀)

(၂) ဓါတ်ဆီ –

(၃) စက်ဆီ၊ချောဆီ – ဂါလံ(၅၀၀)

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်

(၁) လျှပ်စစ်ဓါတ်အား – ၃၁၅ KVA

(၂) ဒီဇယ်အင်ဂျင်စက်အား – ၃၀၀ KVA နှင့် ၆၀ KVA

(၃) ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား–

(၄) သဘာဝ ဓါတ်ငွေ့သုံးစက်အား –

(၅) ပေးပို့သည့်အား –
(ရေအား/ လေအားစသည်များ)

(စ) နှစ်စဉ်ရေလိုအပ်ချက်

(၁) တစ်နေ့ရေလိုအပ်ချက် – ဂါလံ(၃၀၀၀၀)

(၂) တစ်နှစ်ရေလိုအပ်ချက် – ဂါလံ(၉၀၀၀၀၀၀)

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ ကုန်ကြမ်းလိုအပ်ချက် – နောက်ဆက်တွဲဇယား–၄

(ဇ) အဆောက်အဦးလိုအပ်ချက် – နောက်ဆက်တွဲဇယား–၂

(ဈ) မြေနေရာအမျိုးအစားနှင့်အကျယ်အဝန်း – (၃.၇၆၄) ဧက
လိုအပ်ချက်

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ – နောက်ဆက်တွဲဇယား–၅
ဆောင်ရွက်မည့်ဝန်ဆောင်မှု

(ဋ) ရောင်းချမည့်စနစ် – ပြုပြင်အေးခဲပြီးရေထွက်ပစ္စည်းများ၏ ၁၀၀%
ကိုပြည်ပသို့တင်ပို့ရောင်းချခြင်း၊
ရေခဲ(၈၀%)ကိုပြည်တွင်းတွင် ကျပ်ငွေဖြင့်
ရောင်းချခြင်း၊

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ

(က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ– နောက်ဆက်တွဲဇယား–၉
(ခ) လိုအပ်မည့်နိုင်ငံခြားသုံးငွေ – နောက်ဆက်တွဲဇယား–၈
(ဂ) ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ – နောက်ဆက်တွဲဇယား– ၁၀
(ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့်ကုန်ပစ္စည်း နောက်ဆက်တွဲဇယား–၅
(င) နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့် – နောက်ဆက်တွဲဇယား–၅
ကုန်ပစ္စည်း/ဝန်ဆောင်မှု တန်ဖိုးပမာဏ

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင်လိုအပ်မည့်အမှုထမ်းစာရင်း

(က) ပြည်တွင်းမှလိုအပ်မည့်အမှုထမ်းများ – နောက်ဆက်တွဲဇယား–၇
(ခ) နိုင်ငံခြားမှလိုအပ်မည့်ကျွမ်းကျင်သူနှင့် –
အတတ်ပညာရှင်များ

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ

(က) နှစ်စဉ်ဝင်ငွေရရှိမှု – နောက်ဆက်တွဲဇယား–၈
(ခ) နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် – နောက်ဆက်တွဲဇယား–၈
(ဂ) နှစ်စဉ်အသားတင်အမြတ် – နောက်ဆက်တွဲဇယား–၈
(ဃ) နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု – နောက်ဆက်တွဲဇယား–၆
(င) အရင်းကြေကာလ –
(စ) အခြားအကျိုးအမြတ်များ –
(ဆ) အလုပ်အကိုင်သစ်များပေါ်ပေါက် – နောက်ဆက်တွဲဇယား–၇
လာမည့်အခြေအနေ

